**ကုမ္ပဏီအမည်** - L&M Mayson Company Limited

**လုပ်ငန်း** - ဂျုံအခြေခံစားသောက်ကုန်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၃၀-၁၂-၂၀၁၆ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၂/၂၀၁၇) သို့ တင်ပြခြင်း | ၁၀-၁-၂၀၁၇ | | |
| ၃ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၁၁-၁-၂၀၁၇ | | |
| ၄ | သဘောထားမှတ်ချက် တောင်းခံခြင်း<br>(က) ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့<br>(ခ) စက်မှုဝန်ကြီးဌာန<br>(ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | <br>၂၉-၃-၂၀၁၇<br>၂၉-၃-၂၀၁၇<br>၂၉-၃-၂၀၁၇ | <br>၂၁-၄-၂၀၁၇<br>၁၁-၄-၂၀၁၇<br>၁၀-၄-၂၀၁၇ | |
| ၅ | MIC သို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၈)စုံ လက်ခံရရှိ | | | |
| ၆ | **စုစုပေါင်း ကြာမြင့်ရက်** | ၁၃၂ | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - L&M Mayson Company Limited |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - ဂျုံအခြေခံစားသောက်ကုန်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ ရွှေသံလွင်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၊ မြေကွက်အမှတ် ၉၈/C၊ ၉၈/D၊ ၉၈/E၊ အတွင်းရှိမြေ (၈.၉၄၁)ဧက၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် ဇုန်-၁၊ မြေကွက်အမှတ်-၆၂အတွင်းရှိမြေ(၁.၁၃၆)ဧကနှင့် စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် ဇုန်-၄၊ မြေကွက်အမှတ်-၁ရှိမြေ(၂.၀၉၃)ဧက၊ စုစုပေါင်းမြေ (၁၂.၁၇) ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၁၉.၅၈၈ သန်း |
| လုပ်ငန်းသက်တမ်း | - ကနဦး (၅၀)နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| အရင်းကြေကာလ | - ၄ နှစ် ၃လ |
| IRR | - ၂၁.၃၉% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၀.၆၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၄၇.၁၆ | - |
| ၄ | ဝင်ငွေခွန် | ၅၈၅၆ | ၁၀၄၈၈ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | - |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၆၄၂၅.၄၅ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |
| ၈ | CSR (၁%) | | ၇၂ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၁၉၈၅ ဦး အလုပ် အကိုင်ရရှိမည်ဖြစ် ပါသည်။ |
| ၁၀ | စုစုပေါင်း | ၅၉၀၅.၃၂ | ၁၆၉၈၆.၁၁၅ |
| ၁၁ | Cost : Benefit | ၁ : ၃ | |

**အကြောင်းအရာ။** **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် L&M Mayson Company Limited မှ ဂျုံအခြေခံစားသောက်ကုန်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - L&M Mayson Company Limited |
| | ကမကထပြုသူ | - Mr.Toe Kian Seng |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>L&M Confectionery Pte.Ltd.<br>(စင်္ကာပူနိုင်ငံ) ၃၄.၅%<br>Myanmar Mayson Industries Co.,Ltd<br>(မြန်မာနိုင်ငံ) ၆၅.၅% |
| | လုပ်ငန်းအမျိုးအစား | - ဂျုံအခြေခံစားသောက်ကုန်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချ ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် ၉၈/C၊ ၉၈/D ၊ ၉၈/E၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၊ရွှေသံလွင်စက်မှုဇုန်၊ မြေကွက်အမှတ်-၆၂၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် ဇုန်-၁၊ မြေကွက်အမှတ်-၁၊စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် ဇုန်-၄၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - Myanmar Mayson Industries Co.,Ltd. |
| | မြေအကျယ်အဝန်း | - ဧရိယာ ၁၂.၁၇ ဧက(၈.၉၄၁ဧက+၁.၁၃၆ဧက+ ၂.၀၉၃ဧက )<br>(၄၉၂၅၀.၂၈၆၂စတုရန်းမီတာ) |
| ၄။ | နှစ်စဉ်မြေငှားရမ်းခ | - US$ ၁၄၇၇၅၀ {US$ ၁၀၈၅၄၉(၈.၉၄၁၆ဧက)+ US$ ၁၃၇၉၁ (၁.၁၃၆ ဧက) +US$ ၂၅၄၁၀(၂.၀၉၃ဧက)}<br>(တစ်နှစ်တစ်စတုရန်းမီတာလျှင် US$ ၃) |
| | မြေငှားရမ်းကာလ | - ၅၀နှစ် |
| | လုပ်ငန်းသက်တမ်း | - ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် |
| | တည်ဆောက်ရေးကာလ | - ၃ နှစ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - US$ ၁၉.၅၈၈ သန်း |

US$ သန်း

| | ပြည်တွင်း | ပြည်ပ | စုစုပေါင်း |
|---|---|---|---|
| ငွေသား | | ၆.၇၅၈ | ၆.၇၅၈ |
| စက်ပစ္စည်း၊ကိရိယာများ | ၄.၂၀၈ | | ၄.၂၀၈ |
| ဆောက်လုပ်ရေးကုန်ကျ စရိတ် | ၃.၄၁၉ | | ၃.၄၁၉ |
| ရုံးသုံးပရိဘောဂပစ္စည်းများ | ၀.၀၂၂ | | ၀.၀၂၂ |
| ကနဦးကုန်ကြမ်း | ၀.၇၈၆ | | ၀.၇၈၆ |
| မော်တော်ယာဉ် | ၁.၁၂၀ | | ၁.၁၂၀ |
| လိုင်စင်၊ မူပိုင်ခွင့်၊ ကုန်အမှတ်တံဆိပ် | ၃.၂၇၅ | | ၃.၂၇၅ |
| စုစုပေါင်း | ၁၂.၈၃၀ | ၆.၇၅၈ | ၁၉.၅၈၈ |

၆။ ဝန်ထမ်းအင်အား - ၁၉၈၉ဦး

ပြည်တွင်း - ၁၉၈၅ဦး(ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၈၀,၀၀၀ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ်၂,၅၀၀,၀၀၀ ဖြစ်ပါသည်။)

ပြည်ပ - ၄ဦး(ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၂၅၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၁၂,၀၀၀ ဖြစ်ပါသည်။)

၇။ ရောင်းချမည့်စနစ် - ပြည်တွင်း၉၉.၉%
ပြည်ပ ၀.၁%

နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ်
- ပြည်တွင်း၉၉.၉%

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (Quantity) | ရောင်းချမည့် ဈေးနှုန်း (Kyat/ Quantity ) |
|---|---|---|---|
| (က) | Cake | ၁၁၉,၇၃၉,၄၇၀ | ၇၃~၅၈၈၁ |
| (ခ) | Cookies | ၁,၈၉၄,၉၉၇ | ၅၀~၁၃၈၇၅ |
| (ဂ) | Cream Cake | ၆,၃၄၃,၆၆၀ | ၃၈၅~၁၀၆၄ |
| (ဃ) | Swiss Roll & Layer Cake | ၈,၆၂၄,၈၉၇ | ၅၃၈~၁၂၃၆ |
| (င) | Wafer | ၅,၀၅၉,၇၈၁ | ၃၃၀~၆၇၄ |
| (စ) | Moon Cake | ၃၅,၃၅၅,၈၀၈ | ၅၅~၃၃၃၃ |
| (ဆ) | Bread | ၆၄,၆၀၃,၉၁၇ | ၄၄~၃၅၇ |

- ပြည်ပ ၀.၁%

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (Quantity) | ရောင်းချမည့် ဈေးနှုန်း (US$/ Quantity) |
|---|---|---|---|
| (က) | Cream Cake | ၂၉,၆၆၄ | ၀.၈၄၄ |
| (ခ) | Wafer | ၂၇,၆၈၆ | ၀.၄၉ |
| (ဂ) | Swiss Roll & Layer Cake | ၄၄,၄၉၆ | ၀.၄၅ |

၈။ ကုမ္ပဏီ၏ဝင်ငွေ(ဆဋ္ဌမမြောက်နှစ်) - US$ ၆၈.၂၁သန်း

ကုမ္ပဏီ၏အသုံးစရိတ် - US$ ၆၄.၀၃ သန်း

ကုမ္ပဏီ၏အသားတင်အမြတ် (ဆဋ္ဌမမြောက်နှစ်) - US$ ၄.၁၈ သန်း

CSR ၁ % - US$ ၀.၀၆ သန်း

၉။ နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်ဝင်ငွေခွန် - US$ ၁.၄၀ သန်း

ကုန်သွယ်လုပ်ငန်းခွန် - US$ ၃.၂၄ သန်း

အရင်းကြေကာလ - ၄ နှစ် ၃ လ

| | | |
|---|---|---|
| | အရင်းအနှီးအပေါ်အကျိုး အမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၁.၃၉ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၆,၄၉၅,၁၀၃ kWh |
| ၁၁။ | အခြားတင်ပြချက် | - L&M Confectionery Pte.Ltd.နှင့် Myanmar Mayson Industries Co.,Ltdတို့ ချုပ်မည့် JVAgreement (မူကြမ်း) အား တင်ပြထားပါ သည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် Myanmar Mayson Industries Co.,Ltd/Kyaw Myint/Kyi Soe အမည်ဖြင့် ရေဝတီဘဏ် တွင် ၂၂-၁၂-၂၀၁၆ ရက်စွဲဖြင့် ကျပ် ၃၃၁,၈၀၂,၀၇၃.၃၈ ရှိကြောင်းနှင့် L&M Confectionery Pte.Ltd.အမည်ဖြင့် United Overseas Bankတွင် အမေရိကန်ဒေါ်လာ ၂၀၀,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။<br>- L&M Mayson Company Limited ၏ ဒါရိုက်တာစာရင်း၊ MOA နှင့် AOAတို့ကိုလည်း တင်ပြထား ပါသည်။<br>- L&M Mayson Company Limited မှ မီးဘေးကာကွယ်ရေးအစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက်၊ ဝန်ထမ်းသက်သာ ချောင်ချိရေးစီမံချက်၊ လစာခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်းတို့အား တင်ပြထားပါသည်။<br>- L&M Mayson Company Limited နှင့် မြေပိုင်ရှင် Myanmar Mayson Industries Co.,Ltdတို့ ချုပ်မည့် မြေငှား စာချုပ် (မူကြမ်း)အား တင်ပြထားပါသည်။<br>- Myanmar Mayson Industries Co.,Ltd ၏ကုမ္ပဏီ ဖွဲ့စည်းသည့် အထောက်အထား တင်ပြထား ပါသည်။ |
| ၁၂။ | စိစစ်တင်ပြချက် | - ပြည်ပမှ စက်ပစ္စည်းတင်သွင်းခြင်းမရှိပါ။<br>- Myanmar Mayson Industries Co.,Ltd၏ ၂၀၁၆-၂၀၁၇ စည်းကြပ်နှစ်အတွက် ကုန်သွယ်လုပ်ငန်းခွန် ဆောင်ထားကြောင်း အထောက်အထားအားတင်ပြထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၂/ န-၁၇၁ /၂၀၁၇( ၃၉၀ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် မေလ ၁၄ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
## တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် L&M Mayson Company Limited မှ ဂျုံအခြေခံစားသောက်ကုန်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း**

၁။ စင်္ကာပူနိုင်ငံ L&M Confectionery Pte.Ltd.မှ (၃၄.၅%)နှင့် မြန်မာနိုင်ငံမှ Myanmar Mayson Industries Co.,Ltdမှ (၆၅.၅%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် L&M Mayson Company Limited တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ ရွှေသံလွင်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၊ မြေကွက်အမှတ် ၉၈/C၊ ၉၈/D၊ ၉၈/E၊ အတွင်းရှိမြေ(၈.၉၄၁)ဧက၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် ဇုန်-၁၊ မြေကွက်အမှတ်-၆၂အတွင်းရှိ မြေ(၁.၁၃၆)ဧကနှင့် စက်မှုဇုန်၊ မြေတိုင်း ရပ်ကွက်အမှတ် ဇုန်-၄၊ မြေကွက်အမှတ်-၁ရှိမြေ(၂.၀၉၃)ဧက၊ စုစုပေါင်းမြေ(၁၂.၁၇)ဧကကို ငှားရမ်း၍ ဂျုံအခြေခံစားသောက်ကုန်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ L&M Mayson Company Limited နှင့် မြေပိုင်ရှင်Myanmar Mayson Industries Co.,Ltdတို့ကြားချုပ်ဆိုမည့် မြေငှားရမ်းစာချုပ် (မူကြမ်း)၊ မြေအထောက် အထားများ၊ L&M Confectionery Pte.Ltd.နှင့် Myanmar Mayson Industries Co.,Ltd. တို့ ချုပ်မည့် JVAgreement (မူကြမ်း)အား တင်ပြထားပါ သည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မြေကွက်အမှတ် ၉၈/C၊ ၉၈/D ၊ ၉၈/E၊ မြေတိုင်းရပ်ကွက် အမှတ်-၁၄၊ ရွှေသံလွင်စက်မှုဇုန်ရှိ မြေ(၈.၉၄၁)ဧကအား တစ်နှစ်လျှင် တစ်နှစ်ငှားရမ်းခ US$ ၁၀၈၅၄၉၊ မြေကွက်အမှတ်-၆၂၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် ဇုန်-၁၊ လှိုင်သာယာမြို့နယ်ရှိ မြေ(၁.၁၃၆)ဧကအား တစ်နှစ်လျှင် တစ်နှစ်ငှားရမ်းခ US$ ၁၃၇၉၁ နှင့် ၊ မြေကွက်အမှတ်- ၁၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၄၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိမြေ(၂.၀၉၃)

ကေအား တစ်နှစ်လျှင် တစ်နှစ်ငှားရမ်းခ US$ ၂၅၄၁၀ နှုန်းဖြင့် မြေဧရိယာ (၁၂.၁၇) ကေအတွက် စုစုပေါင်း တစ်နှစ်ငှားရမ်းခ US$ ၁၄၇,၇၅၀ ရရှိမည် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလ မှာ ၃နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁၉.၅၈၈ သန်းဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

**US$ (သန်း)**

| | | ပြည်တွင်း | ပြည်ပ | စုစုပေါင်း |
|---|---|---|---|---|
| (က) | ငွေသား | | ၆.၇၅၈ | ၆.၇၅၈ |
| (ခ) | စက်ပစ္စည်း၊ကိရိယာများ | ၄.၂၀၈ | | ၄.၂၀၈ |
| (ဂ) | ဆောက်လုပ်ရေးကုန်ကျစရိတ် | ၃.၄၁၉ | | ၃.၄၁၉ |
| (ဃ) | ရုံးသုံးပရိဘောဂပစ္စည်းများ | ၀.၀၂၂ | | ၀.၀၂၂ |
| (င) | ကနဦးကုန်ကြမ်း | ၀.၇၈၆ | | ၀.၇၈၆ |
| (စ) | မော်တော်ယာဉ် | ၁.၁၂၀ | | ၁.၁၂၀ |
| (ဆ) | လိုင်စင်၊ မူပိုင်ခွင့်၊ ကုန်အမှတ်တံဆိပ် | ၃.၂၇၅ | | ၃.၂၇၅ |
| | စုစုပေါင်း | ၁၂.၈၃၀ | ၆.၇၅၈ | ၁၉.၅၈၈ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၁၉၈၅ဦး ခန့်ထားမည်ဖြစ်ပြီး ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၈၀,၀၀၀ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ်၂,၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း ၄ဦး ခန့်ထားမည်ဖြစ်ပြီး ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၂၅၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၁၂,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော ပစ္စည်းများကို ပြည်တွင်း ၉၉.၉% ရောင်းချမည်ဖြစ်ပြီး ပြည်ပသို့ ၀.၁% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှုနှင့်ရောင်းချမှုဈေးနှုန်းမှာ တဖက်ပါအတိုင်း ဖြစ်ပါသည်-

ပြည်တွင်း ၉၉.၉%

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (Quantity) | ရောင်းချမည့် ဈေးနှုန်း (Kyat/ Quantity) |
|---|---|---|---|
| (က) | Cake | ၁၁၉,၇၃၉,၄၇၀ | ၇၃~၅၈၈၁ |
| (ခ) | Cookies | ၁,၈၉၄,၉၈၇ | ၅၀~၁၃၈၇၅ |
| (ဂ) | Cream Cake | ၆,၃၄၃,၆၆၀ | ၃၈၅~၁၀၆၄ |
| (ဃ) | Swiss Roll & Layer Cake | ၈,၆၂၄,၈၉၇ | ၅၃၈~၁၂၃၆ |
| (င) | Wafer | ၅,၀၅၉,၇၈၁ | ၃၃၀~၆၇၄ |
| (စ) | Moon Cake | ၃၅,၃၅၅,၈၀၈ | ၅၅~၃၃၃၃ |
| (ဆ) | Bread | ၆၄,၆၀၃,၉၁၇ | ၄၄~၃၅၇ |

ပြည်ပ ၀.၁%

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (Quantity) | ရောင်းချမည့် ဈေးနှုန်း (US$/ Quantity) |
|---|---|---|---|
| (က) | Cream Cake | ၂၉,၆၆၄ | ၀.၈၄၄ |
| (ခ) | Wafer | ၂၇,၆၈၆ | ၀.၄၉ |
| (ဂ) | Swiss Roll & Layer Cake | ၄၄,၄၉၆ | ၀.၄၅ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်)တွင် ကုမ္ပဏီမှရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | - ၆၈.၂၁ |
| (ခ) | အသုံးစရိတ် | - ၆၄.၀၃ |
| (ဂ) | အသားတင်အမြတ် | - ၄.၁၈ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (ဆဋ္ဌမမြောက်နှစ်)တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၁.၄၀ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ ၄နှစ် ၃ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR)မှာ ၂၁.၃၉ % ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ စက်မှုဝန်ကြီးဌာနတို့သို့ သဘောထား မှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ - က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန** မှ အဆိုပြု လုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ (၁)ရာခိုင်နှုန်းအား အသုံးပြုခြင်း အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များအား တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းကြောင့်ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ်(Environmental Management Plan-EMP)ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်စာ ရေးသားတင်ပြရန်နှင့် စီမံကိန်း ဆောင်ရွက်မည့်သူများအနေဖြင့် ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ်များ၊ အစီရင်ခံစာများ ရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ပြီး ဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့် ပုံစံများကို ဖြည့်စွက်၍ တစ်ပါတည်းတင်ပြရန် သဘောထားပြန်ကြားထားပါသည်။

**(နောက်ဆက်တွဲ-ခ)**

**(ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (EMP) တို့ကို ဆောင်ရွက် သွားမည် ဖြစ်ကြောင်း တင်ပြထားပါ သည်။)**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** လျှစ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင် ရွက်ရန်၊ မီးဘေးအန္တရာယ် ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁% သုံးစွဲရန်၊ ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန်၊ ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာန၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန၏ ထောက်ခံချက်ရယူရန်၊ထုတ်လုပ်မှုလုပ်ငန်း(၃)နေရာရှိ စက်ပစ္စည်းများစာရင်း ဖော်ပြထားရာ သင့်လျော် မှုရှိသော်လည်း ပြည်တွင်း (သို့မဟုတ်) ပြည်ပမှ ဝယ်ယူတပ်ဆင်မှုတို့ကို ဖော်ပြရန်နှင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ - ဂ)**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Myanmar Mayson Industries Co.,Ltd/Kyaw Myint/Kyi Soe အမည်ဖြင့် ရောဝတီဘဏ်တွင် ၂၂-၁၂-၂၀၁၆ ရက်စွဲဖြင့် ကျပ် ၃၃၁,၈၀၂,၀၇၃.၃၈ ရှိကြောင်းနှင့် L&M Confectionery Pte.Ltd. အမည်ဖြင့် United Overseas Bank တွင် အမေရိကန်ဒေါ်လာ ၂၀၀,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။ဒါရိုက်တာအဖွဲ့ဝင်များ၏ Passport မိတ္တူများနှင့် နိုင်ငံသား မှတ်ပုံတင် မိတ္တူများကို တင်ပြထားပါသည်။

၁၂။ L&M Mayson Company Limited မှ တည်နေရာပြမြေပုံ၊ လုပ်ငန်းသဘော သဘာဝရှင်းလင်းချက်၊ ရေနှင့်လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့်အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက် အစီအစဉ်၊ လုပ်ငန်းခွင်သာယာရေးအတွက် ဆောင်ရွက်ထားရှိမှု၊ ကျန်းမာရေးနှင့်လုပ်ငန်းခွင် အန္တရာယ်ကင်းရှင်းရေး ဆောင်ရွက်ထားရှိမှု၊ ဝန်ထမ်းများအတွက်ကျန်းမာရေး၊ လူမှုရေးစောင့်ရှောက်ထားရှိမည့် အစီအစဉ်များ ကတိဝန်ခံချက်တို့ကို တင်ပြထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၁၀ ရက်နေ့တွင် ကျင်းပသော ၂/၂၀၁၇ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ **စိစစ်တင်ပြချက်**

(က) Myanmar Mayson Industries Co.,Ltd၏ ၂၀၁၆-၂၀၁၇ စည်းကြပ်နှစ်အတွက် ကုန်သွယ်လုပ်ငန်းခွန် ဆောင်ထားကြောင်း အထောက်အထား အားတင်ပြထားပါသည်။

ပြည်ပမှ စက်ပစ္စည်းတင်သွင်းခြင်းမရှိပဲ ကုန်ကြမ်းပစ္စည်းများသာ တင်သွင်းမည် ဖြစ်ပါသည်။

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းသည် ကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် ၁၂၃/၂၀၁၆(၁၆-၁၁-၂၀၁၆) အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ကို ၂၁-၁၂-၂၀၁၆ရက်စွဲဖြင့် တင်ပြခဲ့ပြီး ၎င်းဥပဒေအရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် ခံစားခွင့်ပြုရန် တင်ပြထား ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် L&M Mayson Company Limited မှ ဂျုံအခြေခံ စားသောက်ကုန်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းအပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | L&M Mayson Company Limited | (က)U Kyi Soe<br>Director<br>Myanamr<br>12/ La Tha Na (Naing) 015732 | No. 655, Mahabandoola Street, Latha Township, Yangon |
| | | (ခ) Mr. Toe Kian Seng<br>Director<br>Singapore<br>PP No.E4336272L | 61 Yunnan Drive 3, Singapore 637951 |
| | | (ဂ) U Kyaw Myint<br>Director<br>Myanmar<br>12/ La Ma Ta (Naing) 023048 | No.84, Shwetaungtan Street, Lanamadaw Township, Yangon |
| | | (ဃ)U Tint Kyaw<br>Director<br>Myanmar<br>12/ Pa Ba Ta (Naing) 017480 | No.29B, Thinimingalar Yeikthar Street, 7 Ward, Yankin Township, Yangon |

| | | |
|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - ၀၉-၅၁၉၇၆၄၉ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - အမှတ်-၆၅၅၊ မဟာဗန္ဓုလလမ်း၊ လသာမြို့နယ်၊ ရန်ကုန်တိုင်းမြို့ |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - ဦးကြည်စိုး/ဒါရိုက်တာ |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - ဂျုံအခြေခံ စားသောက်ကုန်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - - |

MIC, 118 / [illegible]

နောက်ဆက်တွဲ-က

တိုင်းဒေသကြီးအစိုးရအဖွဲ့ ★ စာအမှတ် ၁၂၈၇ ရက်စွဲ ၂၄.၄.၁၇ ★ ရန်ကုန်တိုင်းဒေသကြီး

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဧပြီ လ ၂၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉.၃.၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၂/ န-၁၇၁/၂၀၁၇(၃၀၀)

၁။ စင်္ကာပူနိုင်ငံ L & M Confectionery Pte. Ltd. မှ (၃၄.၅ %)နှင့် မြန်မာနိုင်ငံမှ Myanmar Mayson Industries Co., Ltd. မှ (၆၅.၅ %)အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် L & M Mayson Company Limited တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ ရွှေသံလွင်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၊ မြေကွက်အမှတ်- ၉၈/C၊ ၉၈/D၊ ၉၈/E အတွင်းရှိ မြေ(၈.၉၄၁)ဧက၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေကွက်အမှတ်- ၆၂အတွင်းရှိ မြေ (၁.၁၃၆)ဧကနှင့် မြေကွက်အမှတ်-၁ ရှိ မြေ (၂.၀၉၃)ဧက၊ စုစုပေါင်းမြေ(၁၂.၁၇)ဧကကို ငှားရမ်း၍ ဂျုံအခြေခံစားသောက်ကုန်များ ထုတ်လုပ်ခြင်းနှင့်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြား ပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်း မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၂၀.၄.၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၅/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၂၃)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
L & M Mayson Company Limited
လက်ခံစာတွဲ/မျှောစာတွဲ

D/2017/Cabinet/14.,(8)

**နောက်ဆက်တွဲ- ခ**

MIC1 111
10/4

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/ MIC(OSS) /၀၁(၁၈၈/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၀ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **L & M Mayson Company Limited မှ ဂျုံအခြေခံ စားသောက်ကုန်များထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉-၃-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက- ၂/န-၁၇၁/ ၂၀၁၇ (၃၀၃)

၁။ စင်ကာပူနိုင်ငံ L & M Confectionery Pte. Ltd. မှ ၃၄.၅% နှင့် မြန်မာနိုင်ငံမှ Myanmar Mayson Industries Co., Ltd. မှ ၆၅.၅% အစုရှယ်ယာများထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် L&M Mayson Company Limited တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ ရွှေသံလွင်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်- ၁၄၊ မြေကွက်အမှတ်- ၉၈/C၊ ၉၈/D၊ ၉၈/E အတွင်းရှိ မြေ ၈.၉၄၁ ဧက၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေကွက်အမှတ်- ၆၂ အတွင်းရှိ မြေ ၁.၁၃၆ ဧကနှင့် မြေကွက်အမှတ်- ၁ရှိ မြေ ၂.၀၉၃ ဧက၊ စုစု ပေါင်းမြေ ၁၂.၁၇ ဧက (၄၉,၂၅၀.၂၄ စတုရန်းမီတာ) ကို ငှားရမ်း၍ ဂျုံအခြေခံ စားသောက်ကုန်များထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လွှာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၅၀) ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ နဂိုတည်ဆောက်လည်ပတ်နေပြီးဖြစ်သော Good morning ပေါင်မုန့်နှင့် စားသောက်ကုန်ထုတ်ပစ္စည်းများကို ပထမနှစ်တွင်တန်ချိန် (၁.၆) သောင်းကျော်မှ (၁၀) နှစ်အတွင်း တန်ချိန် (၃) သောင်းအထိ ထုတ်ပိုးမှုအဆင့်မြှင့်တင်ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ခ) L & M Confectionery Pte. Ltd. နှင့် Myanmar Mayson Industries Company Limited တို့အကြား ပူးပေါင်းဆောင်ရွက်ရန် သဘောတူလက်မှတ်ရေးထိုးမည့်စာချုပ်မူကြမ်း ဖော်ပြပါရှိပါကြောင်း၊

(ဂ) မီးဘေး ကြိုတင်ကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များ ကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့် အမြတ်ငွေ၏ (၁%) ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

(င) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ သဘာဝပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရေးအတွက် လိုအပ်သည့် အစီအမံများ စီမံဆောင်ရွက်သွားမည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ထိခိုက်မှုမဖြစ်စေရန် (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်အတွက်ဆောင်ရွက်မည့်အစီအမံများ၊ စီမံခန့်ခွဲမှုနှင့် စောင့်ကြပ်ကြည့်ရှုမည့်အစီအစဉ်များ၊ စီမံခန့် ခွဲမှုနှင့် စောင့်ကြပ်ကြည့်ရှုမည့်အစီအစဉ်များနှင့် အရေးအပေါ်အစီအစဉ်များပါဝင်သော ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (EMP) ကို ပြုစု၍ ပေးပို့တင်ပြသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါ သည်။

၃။ တည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) အဆိုပါ L&M Mayson Company Limited မှ ဂျုံအခြေခံ စားသောက်ကုန်များထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများဆောင်ရွက်ရာတွင် ထုပ်ပိုးရာနှင့်ထုတ်လုပ်ရာ၌ အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများသည် ဆွေးမြေ့ပျက်စီးရန် အချိန်ကြာမြင့်သည့်အတွက် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးနိုင်ခြင်း၊

(ခ) လုပ်ငန်းသုံးစက်နှင့် ယာဉ်ယန္တရားများ၏ ဆူညံအသံကြောင့် အသံညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ဂ) စွန့်ပစ်ပစ္စည်းများဖြစ်သော အမဲဆီ၊ အင်ဂျင်ဝိုင်၊ လောင်စာဆီစသည့် စွန့်ပစ် အဆီ/ အရည်/ အစိုင်အခဲများကြောင့် ပတ်ဝန်းကျင် မြေထု၊ ရေထု ညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊

(ဃ) အလုပ်သမားများမှ စွန့်ပစ်ပစ္စည်းအရည်/ အစိုင်အခဲများစွန့်ပစ်ခြင်း၊ မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင် ရေထု၊ မြေထု၊ လေထု ညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ L&M Mayson Company Limited မှ ဂျုံအခြေခံ စားသောက်ကုန်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအားတည်ဆောက်၍ ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၁%) အား အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်သည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental

Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါအချက်အလက်များနှင့်အညီ အစီရင်ခံ ရေးသားတင်ပြရန်။

(ဂ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍ တစ်ပါတည်းတင်ပြရန်၊

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သောဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

2015/8/

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

2015/12

MIC 1 116/19/4

နောက်ဆက်တွဲ-ဂ

NPT 1376

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၇-၂၀၁၈(၀၉၈)

ရက် စွဲ၊ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉.၃.၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၂/ န-၁၇၁ / ၂၀၁၇ (၃၀၂)

၁။ L & M Mayson Company Limited မှ ဖက်စပ်နိုင်ငံရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေသံလွင်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄)၊ မြေကွက်အမှတ်( ၉၈/C၊ ၉၈/D၊ ၉၈/E )နှင့် လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေကွက်အမှတ်(၆၂)တွင် ဂျုံအခြေခံစားသောက်ကုန်များထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး Good Morning အမှတ်တံဆိပ်ဖြင့် ဂျုံအခြေခံစားသောက်ကုန်များထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁ % သုံးစွဲရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန၊ အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေး ဦးစီးဌာန၏ ထောက်ခံချက်ရရှိရန် လိုအပ်ပါသည်။

(စ) ဂျုံ၊ သကြား အပါအဝင် ပြည်တွင်းကုန်ကြမ်း(၆၁)မျိုးနှင့် Flavour အမျိုးမျိုး အပါအဝင် ပြည်ပကုန်ကြမ်း(၁၂)မျိုး အသုံးပြုမည်ဖြစ်၍ သင့်လျော်မှု ရှိပါသည်။

(ဆ) ထုတ်လုပ်မှုလုပ်ငန်း(၃)နေရာရှိ စက်ပစ္စည်းများစာရင်း ဖော်ပြထားရာ သင့်လျော်မှုရှိသော်လည်း ပြည်တွင်း(သို့မဟုတ်)ပြည်ပမှ ဝယ်ယူတပ်ဆင်မှုတို့ကို ဖော်ပြရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ L & M Mayson Company Limited မှ Good Morning အမှတ်တံဆိပ်ဖြင့် ဂျုံအခြေခံစားသောက်ကုန်များထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား )
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

မြန်မာ့ဆေးဝါးလုပ်ငန်း

မျှောစာတွဲ

ရုံးလက်ခံ